(ည) “အငှားချထားသူ” နှင့် ဆက်သွယ်ဆောင်ရွက်ရန်အတွက် ခန့်အပ်ထားသည့် ကြီးကြပ်ရေးအဖွဲ့၏ လစာစရိတ်နှင့်ထောက်ပံ့ငွေများမှအပ ကျန်ရှိသည့် ဝန်ထမ်းများ၏ လစာစရိတ်ထောက်ပံ့ငွေများအား “အငှားချထားခြင်းခံရသူ” မှ ကျခံသွားရမည်။

(ဋ) “အငှားချထားခြင်းခံရသူ” မှ ခန့်အပ်ထားသည့် ဝန်ထမ်းများနှင့် “အငှားချထားသူ”မှ “အငှားချထားခြင်းခံရသူ”ထံ သို့ လွှဲပြောင်းပေးမည့် ဝန်ထမ်းများ၏ လစာစရိတ်ထောက်ပံ့ငွေများကို ကွာခြားချက်မရှိစေရန် ညှိနှိုင်းဆောင်ရွက်ပေးရမည်။ လွှဲပြောင်းပေးမည့် ဝန်ထမ်းများ၏ ရာထူး/အဆင့် လစာနှုန်းထားအလိုက်ပြုစုထားသည့်စာရင်းအား နောက်ဆက်တွဲ(၅)ဖြင့် ဖော်ပြထားပါသည်။

(ဌ) လက်ရှိထုတ်လုပ်သည့် ဆေးဝါးများနှင့်စပ်လျဉ်း၍ နောင်တွင်ပိုမိုဆေးစွမ်း ထက်မြက်သော ထုတ်ကုန်ပစ္စည်းများဖြစ်လာစေရန် အရည်အသွေးများ ပိုမိုမြင့်မားစေရန် ရည်ရွယ်ချက်များဖြင့် ဆေးဝါးထုတ်လုပ်မှုလုပ်ငန်းများနှင့်စပ်လျဉ်း၍ ပြည်ပနိုင်ငံများမှ Technician များ ငှားရမ်းဆောင်ရွက်ခြင်း၊ နည်းပညာအကူအညီများ ရယူဆောင်ရွက်ခြင်း၊ ထုတ်လုပ်မှုနည်းစနစ်အသစ်များဖြင့် ထုတ်လုပ်ခြင်းတို့ကို ဆောင်ရွက်သွားရမည်။

(ဍ) နိုင်ငံခြားသားပညာရှင်များထံမှ လိုအပ်သည့်နည်းပညာများ လွှဲပြောင်းပေးခြင်း ( Technical Know How Transfer ) နှင့် “အငှားချထားသူ” မှ ဝန်ထမ်းများအား လိုအပ်သောနည်းပညာနှင့်အတတ်ပညာများ သင်ကြားပြသပေးခြင်းတို့ကို ဆောင်ရွက်ပေးရမည်။

(ဎ) ထုတ်လုပ်သည့်ဆေးဝါးများ အစွမ်းထက်မြက်စေရန်အတွက် အရည်အသွေးပြည့်မှီသည့် ဆေးဝါးကုန်ကြမ်းများကိုသာ တင်သွင်းသုံးစွဲရမည်။ အဆိုပါပစ္စည်းများမှ ပေါ်ပေါက်လာသော မည်သည့်အကြောင်းကိစ္စမဆို “အငှားချထားသူ”အား ထိခိုက်ခြင်း၊ အကျိုးသက်ရောက်စေခြင်းမရှိစေဘဲ “အငှားချထားခြင်းခံရသူ” နှင့်သာ တိုက်ရိုက်သက်ဆိုင်စေရမည်။

(ဏ) ကုန်ကြမ်းဝယ်ယူရရှိနိုင်မှု၊ ကျွမ်းကျင်ပညာရှင် အခြေအနေပေးမှု၊ ထုတ်လုပ်ရေးဆိုင်ရာစက်ပစ္စည်းများအဆင်သင့်ဖြစ်မှု စသည်တို့ကိုအခြေခံပြီး အခြေအနေခွင့်ပြုသည်နှင့်အညီ မြန်မာတိုင်းရင်းဆေးဝါးများကို သုတေသနပြုလုပ်ပြီး အစွမ်းထက်မြက်၍ ဘေးထွက်ဆိုးကျိုးနည်းသည့် ဆေးဝါးများအဖြစ် ထုတ်လုပ်ဖြန့်ဖြူးနိုင်ရန် ဆောင်ရွက်ရမည်။

(တ) မြန်မာနိုင်ငံဆေးဝါးလုပ်ငန်းစက်ရုံ (ပြင်ဦးလွင်)မှထုတ်လုပ်သော ထုတ်ကုန်ပစ္စည်းဆေးဝါးများအားလုံးသည် အရည်အသွေးမှန်ကန်ပြီး သတ်မှတ်စံချိန်/စံညွှန်းများအတိုင်း ထုတ်လုပ်ရမည်ဖြစ်ပြီး FDA ခွင့်ပြုချက်ရရှိပြီး ဖြစ်ရမည်။ FDA နှင့် ကျန်းမာရေးဝန်ကြီးဌာနမှ လိုအပ်သောခွင့်ပြုချက်ရရှိရန် “အငှားချထားသူ” မှ ရုံးလုပ်ငန်းပိုင်းဆိုင်ရာကိစ္စရပ်များအား ကူညီထောက်ပံ့ပေးရမည်။

(ထ) တပ်မတော်ဆေးရုံကြီးများနှင့် ပြည်သူ့ဆေးရုံကြီးများအတွက် “အငှားချထားသူ”မှ ရယူလိုသောဆေးဝါးအမျိုးအစားနှင့် အရေအတွက် (တစ်နှစ်ထုတ်လုပ်မှု၏ တစ်ဝက်ထက်မပိုသည့်ပမာဏ)

အား စက်ရုံထုတ်ဈေးဖြင့် ထုတ်လုပ်ပေးသွင်းရမည်။ အရေးပေါ်ကာလမျိုးတွင် နိုင်ငံတော်နှင့် တပ်မတော်အတွက် ဆေးဝါးများ လိုအပ်လာပါက လိုအပ်သည့်ဆေးဝါးများကို စက်ရုံထုတ်ဈေးဖြင့် ထုတ်လုပ်ပေးသွင်းရမည်။

(ဒ) ကုန်ချောပစ္စည်း (Finished Product & Semi-Product) များနှင့် အခြားထပ်မံထုတ်လုပ်ရောင်းချပေးပို့မည့် ကုန်ပစ္စည်းတို့၏ ကုန်စည်စီးဆင်းမှု၊ ထုတ်လုပ်မှုအခြေအနေများ သိရှိနိုင်ရန် နေ့စဉ်ထုတ်လုပ်မှုအခြေအနေများ၊ လစဉ်ထုတ်လုပ်မှုစာရင်းချုပ်များနှင့် စက်ရုံမှ ကုန်ပစ္စည်းထုတ်ယူပေးပို့မည့် Gate Pass, Convoy Note မိတ္တူတို့အား မြန်မာနိုင်ငံဆေးဝါးလုပ်ငန်းစက်ရုံ (ပြင်ဦးလွင်)၏ ကြီးကြပ်ရေးအဖွဲ့သို့ ပေးပို့သွားရမည်။

(ဓ) "အငှားချထားခြင်းခံရသူ"သည် ငှားရမ်းထားသောအဆောက်အဦနှင့် စက်ပစ္စည်းများအားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ၊ အခြားတစ်ဦးတစ်ယောက်သို့လည်းကောင်း၊ အခြားကုမ္ပဏီ/အဖွဲ့အစည်းတစ်ခုခုသို့လည်းကောင်း လွှဲပြောင်းပေးခြင်း၊ ထပ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း လုံးဝ(လုံးဝ)မပြုလုပ်ရ။

(၁) "အငှားချထားခြင်းခံရသူ"သည် စက်ရုံကို အနည်းဆုံး(၁၀)နှစ် တစ်ဆက်တည်း ငှားရမ်းရမည်။ ထိုနှစ်အပိုင်းအခြားမတိုင်မီ စက်ရုံကို ပြန်လည်အပ်နှံမည်ဆိုပါက "အငှားချထားခြင်းခံရသူ"က ထပ်မံ၍ အသစ်တပ်ဆင်ထားသော စက်များ၊ အဆောက်အဦများ၊ ကုန်ကြမ်းနှင့် ကုန်ချောပစ္စည်းများကို အငှားချထားခြင်းခံရသူက ပြန်လည်၍ ရယူပိုင်ခွင့်မရှိစေရ။

(၂) "အငှားချထားခြင်းခံရသူ" မှ စာချုပ်ကို (၁၀)နှစ်သက်တမ်းကာလမတိုင်မီ ရပ်စဲမည်ဖြစ်ပါက "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ"အား ပြီးခဲ့သော(၃)နှစ်ကာလအတွင်း ရောင်းရငွေတန်ဖိုး စုစုပေါင်းကို တစ်ပေါင်းတစ်စည်းတည်းလျော်ကြေးအဖြစ် ပေးလျော်ရမည်။

(၃) စက်ရုံကို ငှားရမ်းသည့်သက်တမ်း (၁၀)နှစ်ကျော်လွန်ပြီးနောက် အကြောင်းအမျိုးမျိုးကြောင့် စက်ရုံကိုပြန်လည်အပ်နှံမည်ဆိုပါက "အငှားချထားခြင်းခံရသူ"ကထပ်မံ၍ အသစ်တပ်ဆင်ထားသောစက်များ၊ အဆောက်အဦများ၊ ကုန်ကြမ်းနှင့် ကုန်ချောပစ္စည်းကို "အငှားချထားသူ" နှင့် ကျေလည်စွာညှိနှိုင်းပြီး ပြန်လည်ရယူနိုင်ပါသည်။

(န) "အငှားချထားခြင်းခံရသူ"၏ ပေါ့လျော့မှု၊ ချို့ယွင်းအားနည်းမှုကြောင့် စက်ပစ္စည်းကိရိယာများ (သို့)အဆောက်အဦများ (သို့)လုပ်ငန်းသုံးယာဉ်များ (သို့)အုပ်ချုပ်မှုသုံးယာဉ်များ ပျက်စီးဆုံးရှုံးမှုများဖြစ်ပေါ်ပါက ပျက်စီးသောပစ္စည်းများ၏ကာလတန်ဘိုးအတိုင်း "အငှားချထားခြင်းခံရသူ"မှ ပေးလျော်ရမည်(သို့)ပစ္စည်းများ မူလအတိုင်းပြန်လည်ပြုပြင်ခြင်းများ ဆောင်ရွက်ပေးရမည်။

(ပ) "အငှားချထားခြင်းခံရသူ"သည် လုပ်ငန်းလိုအပ်ချက်အရ မိမိ၏ ငွေကြေးကျခံ၍ ခန့်အပ်ထားသည့် ဝန်ထမ်းများ၏ စာရင်းကို အမည်၊ နိုင်ငံသားစီစစ်ရေးအမှတ်၊ ရာထူး၊ မွေးသက္ကရာဇ်၊ ပညာအရည်အချင်း၊ အိမ်ထောင် ရှိ/မရှိ၊ နေရပ်လိပ်စာ စသည်တို့ကိုဖော်ပြ၍ မြန်မာနိုင်ငံ

ဆေးဝါးလုပ်ငန်းစက်ရုံ (ပြင်ဦးလွင်)၏ ကြီးကြပ်ရေးအဖွဲ့ထံသို့ ပေးပို့ရမည်။ လစဉ် ဝန်ထမ်း အတိုး/ အလျှော့စာရင်းကိုလည်း ပြုစုပေးပို့ရမည်။

(ဖ) ခန့်အပ်ထားသည့် ဝန်ထမ်းများနှင့်စပ်လျဉ်း၍ တည်ဆဲဥပဒေများ၊ အလုပ်သမား၊ အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန၊ လူမှုဖူလုံရေးဦးစီးဌာနများမှ ထုတ်ပြန်ထားသည့်အမိန့်၊ ညွှန်ကြားချက်များနှင့်အညီ အလုပ်ရှင်/အလုပ်သမား လူမှုဖူလုံရေးထည့်ဝင်ကြေး ကိစ္စရပ်များအပါအဝင် ခံစားခွင့်ရရှိစေရန် ဆောင်ရွက်ပေးရမည်။ စက်ရုံနှင့်ပတ်သက်၍ ဆန္ဒပြမှုများတစ်စုံတစ်ရာ ပေါ်ပေါက်ခဲ့ပါက "အငှားချထားခြင်းခံရသူ" မှ ညှိနှိုင်းဖြေရှင်းဆောင်ရွက်ပေးရမည်။

(ဗ) "အငှားချထားခြင်းခံရသူ"မှခန့်ထားသည့်ဝန်ထမ်းများနှင့်စပ်လျဉ်း၍ စက်ရုံအား ဆက်လက်ငှားရမ်းခြင်းမပြုတော့သည့်အချိန်တွင် "အငှားချထားသူ"ထံတွင်ဖြစ်စေ၊ သို့တည်းမဟုတ် "အငှားချထားခြင်းခံရသူ" ထံတွင်ဖြစ်စေ၊ တာဝန်ထမ်းဆောင်လိုသူများအား ယင်းဝန်ထမ်းများ၏ သဘောထားဆန္ဒကိုတောင်းခံ၍ ဆောင်ရွက်ပေးရမည်။

(ဘ) မြန်မာနိုင်ငံဆေးဝါးလုပ်ငန်းစက်ရုံ(ပြင်ဦးလွင်)အားငှားရမ်း၍ ဆေးဝါးထုတ်လုပ်မှုလုပ်ငန်းများလုပ်ကိုင်ဆောင်ရွက်ခြင်းကို "အငှားချထားသူ"က ဆက်လက်ငှားရမ်းခြင်း မပြုလိုသည့်အခြေအနေဖြစ်ပေါ်လာပါက "အငှားချထားခြင်းခံရသူ"၏စရိတ်ဖြင့် ဝယ်ယူထားသည့်ကုန်ကြမ်းပစ္စည်းများအား အမြန်ဆုံးရှင်းလင်းသယ်ဆောင်သွားရမည်။

(မ) "အငှားချထားခြင်းခံရသူ"သည် နိုင်ငံတော်ကခွင့်ပြုသောစီးပွားရေးလုပ်ငန်းများကိုသာ လုပ်ကိုင်ရမည်။ နိုင်ငံတော်မှဥပဒေအရတားမြစ်ထားသော တရားမဝင်ဆေးဝါးများကို ထုတ်လုပ်ခြင်းမပြုရ။ "အငှားချထားခြင်းခံရသူ"သည် မြန်မာနိုင်ငံဆေးဝါးလုပ်ငန်းစက်ရုံ(ပြင်ဦးလွင်)အား ဆေးဝါးထုတ်လုပ်မှုလုပ်ငန်းများအတွက် စက်ရုံအဆောက်အဦများ ပြင်ဆင်ခြင်း၊ စက်လိုင်းများအား ပြင်ဆင်ခြင်း၊ တိုးချဲ့တပ်ဆင်ခြင်း၊ စက်ရုံနယ်နိမိတ် ဧရိယာအတွင်းရှိ မြေလွတ်များတွင် ထုတ်လုပ်မှုအထောက်အကူပြု စိုက်ပျိုးရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ နည်းပညာရရှိရေး၊ ကျွမ်းကျင်ဝန်ထမ်းများရရှိရေးတို့အတွက် ငွေကြေးကျခံဆောင်ရွက်ရမည်။ အရည်အသွေးပြည့်မီသော ဆေးဝါးများထုတ်လုပ်နိုင်ရန်အတွက် အမည်ကောင်းသတင်းကျော်ဇောမှုရှိသော နိုင်ငံခြားဆေးဝါးကုမ္ပဏီများနှင့် ဖက်စပ်ထုတ်လုပ်နိုင်ရေးအတွက် ကြိုးစားဆောင်ရွက်ရမည်။

(ယ) စက်ရုံအလုပ်ရုံပိုင်းဆိုင်ရာ၊ ဝန်ထမ်းပိုင်းဆိုင်ရာ၊ လျှပ်စစ်စွမ်းအားဆိုင်ရာ စသည်တို့အတွက် ထုတ်ပြန်ထားသော တည်ဆဲဥပဒေများ၊ အမိန့်ညွှန်ကြားချက်များကို လေးစားလိုက်နာရမည်။ ၁၉၅၁ ခုနှစ် အလုပ်ရုံများ အက်ဥပဒေ၊ ဆိုင်များနှင့် အလုပ်ဌာနများ အက်ဥပဒေ၊ ခွင့်ရက်နှင့် အလုပ်ပိတ်ရက်အက်ဥပဒေ၊ အလုပ်အကိုင်နှင့် ကျွမ်းကျင်မှုဖွံ့ဖြိုးတိုးတက်ရေးဥပဒေနှင့် နောက်ပိုင်းထုတ်ပြန်ထားသည့် တည်ဆဲပြင်ဆင်ချက်များနှင့်အညီ တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

(ရ) "အငှားချထားသူ"မှ တာဝန်ရှိသူများ စက်ရုံသို့ လာရောက်စစ်ဆေးချိန်တွင် အစစ်ဆေးခံနိုင်ရေး

အတွက် စီစဉ်ဆောင်ရွက်ပေးရမည်။ "အငှားချထားသူ"နှင့် မြန်မာနိုင်ငံဆေးဝါးလုပ်ငန်းစက်ရုံ (ပြင်ဦးလွင်)၏ ကြီးကြပ်ရေးအဖွဲ့မှ တာဝန်ရှိသူများကသိရှိလို၍ မေးမြန်းချက်များရှိပါက မှန်ကန်စွာရှင်းလင်းတင်ပြရမည်။

(လ) "အငှားချထားခြင်းခံရသူ"၏ ပေါ့ဆမှုကြောင့် မီးဘေးအန္တရာယ်ဖြစ်ပေါ်ပါက ပျက်စီးဆုံးရှုံးမှု တန်ဘိုးအား "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူပေးလျော်ရမည်။ စက်ရုံနှင့်ပတ်သက်သည့် မီးအာမခံနှင့် အလုံးစုံအာမခံအား "အငှားချထားခြင်းခံရသူ"မှ ထားရှိရမည်ဖြစ်ပြီး ယင်းအာမခံထားရှိခြင်းကို အောင်သစ္စာဦးအာမခံကုမ္ပဏီနှင့်သာ ဆက်သွယ်ဆောင်ရွက်ရမည်။

(ဝ) တပ်မတော်ဆေးရုံများအတွက် ဆေးပြား(၁၀၀၀)ဆံ့ ဘူးဆိုက်များဖြင့် ထုတ်လုပ်ရမည်ဖြစ်ပြီး ဘူးများပေါ်တွင် ARMY ISSUE ONLY စာတန်း ရိုက်နှိပ်ရမည်။ ဆေးဘူးများအား Barcode ထည့်နိုင်သည်အထိ ဆောင်ရွက်သွားရမည်။

(သ) "အငှားချထားသူ"၏ ပိုင်သေပိုင်ပစ္စည်းများဖြစ်သော မြေ၊ အဆောက်အဦ၊ စက်ကိရိယာ၊ ပရိဘောဂ ပစ္စည်းများ ပျက်စီးဆုံးရှုံးမှုမရှိစေရေး စောင့်ကြပ်ထိန်းသိမ်းရန် ယခင်က ဆောင်ရွက်ခဲ့သော စာရွက်စာတမ်းမှတ်တမ်းအချက်အလက်များကို ထိန်းသိမ်းစောင့်ရှောက်ရန် "အငှားချထားသူ" နှင့် ဆက်သွယ်ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံဆေးဝါးလုပ်ငန်းစက်ရုံ (ပြင်ဦးလွင်) ၏ ကြီးကြပ်ရေးအဖွဲ့ကို ထားရှိမည်ဖြစ်ပြီး ပူးပေါင်းကူညီဆောင်ရွက်ရမည်။ ငှားရမ်းကာလကုန်ဆုံးချိန်တွင် ၎င်းပရိဘောဂများကို "အငှားချထားခြင်းခံရသူ"မှ ယူဆောင်သွားခြင်း မရှိ(မရှိ)စေရ။ ပျက်စီးမှုများရှိပါက တန်ဘိုးအတိုင်းပေးလျော်ခြင်း (သို့) မူလအတိုင်းပြုပြင်၍ ပြန်လည်အပ်နှံစေခြင်းများပြုလုပ်ရမည်။

(ဟ) "အငှားချထားခြင်းခံရသူ"သည် လွှဲပြောင်းလက်ခံထားသည့် အခြေအနေမှဖက်စပ် ကုန်ကြမ်းပေး ကုန်ချောယူစနစ်သို့ ပြောင်းလဲဆောင်ရွက်လျှင်သော်လည်းကောင်း၊ စာချုပ်ရပ်စဲ၍ လုပ်ငန်းမှ ထွက်ခွာမည်ဆိုပါက စက်ရုံနှင့် သက်ဆိုင်သော လျှို့ဝှက်ဥပဒေအရ ဆေးဝါးထုတ်လုပ်မှုနှင့် ပတ်သက်သော -

(၁) တံဆိပ်

(၂) Design

(၃) Packing

(၄) Specification များနှင့် နမူနာများ၊ မူရင်းများ၊ Soft Copy များ ပြန်လည်အပ်နှံရန် ဆက်သွယ်ဆောင်ရွက်သော ကုမ္ပဏီများနှင့် Manufacturer များအား အကြောင်းကြားနိုင်ရန် တာဝန်ခံနှင့် လိပ်စာများ လွှဲပြောင်းပေးအပ်ရမည်။

(ဠ) ဆေးဝါးထုတ်လုပ်သော Master Formula ဖြစ်သည့် Phamaceutical Ingredients and Packing Material (Doc-No.MPS(POL)-PD-F 01) Controlled Copy စာအုပ်အား မိတ္တူကူးယူထားခြင်းမရှိကြောင်း အာမခံချက်ဖြင့် ပြန်လည်အပ်နှံရမည်။

(အ) "အငှားချထားခြင်းခံရသူ"သည် ထုတ်လုပ်မှုလုပ်ငန်းများဆောင်ရွက်သည့် ကာလ(၃) နှစ်ပြည့်ပြီး နောက် အရင်းကြေ ထုတ်လုပ်မှုပမာဏထက်ပိုမိုသည့် ထုတ်ကုန်ပစ္စည်းများအပေါ်တွင် Royality Fees အား နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး "အငှားချထားသူ"ထံ ပေးသွင်းရမည်။

**အငှားချထားသူ၏ တာဝန်ဝတ္တရားများ**

၁၃။ "အငှားချထားသူ"၏တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "အငှားချထားခြင်းခံရသူ"အား မြန်မာနိုင်ငံဆေးဝါးလုပ်ငန်းစက်ရုံ(ပြင်ဦးလွင်)၏ အဆောက်အဦ များ၊ စက်ပစ္စည်းကိရိယာများ၊ လုပ်ငန်းသုံးယာဉ်များ၊ အုပ်ချုပ်မှုသုံးယာဉ်များ၊ စက်ရုံပိုင်မြေများနှင့် လက်ရှိခန့်အပ်ထားသော ဝန်ထမ်းများအား အသုံးပြုခွင့်ပေးရမည်ဖြစ်ပြီး ကုန်ကြမ်းဝယ်ယူမှု၊ ထုတ်လုပ်မှုနှင့်ဆိုင်သောစီမံခန့်ခွဲမှု (Production Management) နှင့် ကုန်ချောရောင်းချဖြန့်ဖြူးမှု တို့အား "အငှားချထားခြင်းခံရသူ" သို့ ဆောင်ရွက်ခွင့်ပြုရမည်။

(ခ) မြန်မာနိုင်ငံဆေးဝါးလုပ်ငန်းစက်ရုံ(ပြင်ဦးလွင်)မှ ထုတ်လုပ်သော ထုတ်ကုန်ဆေးဝါးများအားလုံး သည် အရည်အသွေးမှန်ကန်ပြီး သတ်မှတ်စံချိန်စံညွှန်းများအတိုင်း ထုတ်လုပ်ရမည်ဖြစ်ပြီး လက်ရှိ ထုတ်လုပ်လျက်ရှိသော ဆေးဝါးများသည် FDA ခွင့်ပြုချက်ရရှိပြီးဖြစ်ရမည်။ "အငှားချထားခြင်းခံရသူ" မှ အသစ်ထပ်မံထုတ်လုပ်သော ဆေးဝါးအသစ်များကို ကျန်းမာရေးဝန်ကြီးဌာန ထောက်ခံချက်ဖြင့် မှတ်ပုံတင်ခွင့်ရရှိရေးနှင့် WHO ၏ GMP (Good Manufacturing Practice) စံနှုန်းနှင့်ကိုက်ညီစွာ ထုတ်လုပ်ရရှိအောင် "အငှားချထားသူ" မှ ပူးပေါင်းပံ့ပိုးကူညီဆောင်ရွက်ပေးရမည်။

(ဂ) "အငှားချထားခြင်းခံရသူ"မှ အသစ်ထပ်မံတိုးချဲ့ထုတ်လုပ်နေသော ဆေးဝါးအမယ်သစ်များကို ဈေးကွက်၌ ဖြန့်ဖြူးရောင်းချခွင့်ရရှိရေးအတွက် အစားအသောက်နှင့်အရည်အသွေးစစ်ဆေးရေး ဌာန (FDA) ၏ ထောက်ခံချက်အပါအဝင် အခြားလိုအပ်သော အစိုးရအဖွဲ့အစည်းများနှင့် ဌာနဆိုင်ရာများ၏ ခွင့်ပြုချက်များရရှိရန်လိုအပ်ပါက ပံ့ပိုးကူညီဆောင်ရွက်ပေးရမည်။

(ဃ) "အငှားချထားခြင်းခံရသူ"မှတစ်ပါး အခြားမည်သည့် လူ/ပုဂ္ဂိုလ်/အဖွဲ့အစည်းကိုမျှ စက်ရုံပရဝုဏ် အတွင်း၌သော်လည်းကောင်း၊ ပြင်ပ၌သော်လည်းကောင်း၊ မြန်မာနိုင်ငံဆေးဝါးလုပ်ငန်းစက်ရုံ (ပြင်ဦးလွင်)၏ အမည်နှင့်အမှတ်တံဆိပ်(Logo) သုံးစွဲ၍ ဆေးဝါးထုတ်လုပ်ခွင့်မပြုရ။

(င) "အငှားချထားခြင်းခံရသူ"၏ လုပ်ငန်းများ အဆင်ပြေချောမွေ့စေရေးအတွက် လိုအပ်သည့် ရေ၊ လျှပ်စစ်မီးတို့အား အသုံးပြုခွင့်ပေးရမည်။

(စ) စက်ရုံပိုင်ပရိဘောဂများကိုလည်း "အငှားချထားခြင်းခံရသူ" မှ အသုံးပြုမည်ဆိုပါက ခွင့်ပြုပေးရမည်။

(ဆ) ကုန်ကြမ်းပစ္စည်းများအား ပြည်ပမှဝယ်ယူလိုလျှင်သော်လည်းကောင်း၊ ဝန်ကြီးဌာနများမှ ဝယ်ယူ လိုလျှင်သော်လည်းကောင်း "အငှားချထားသူ"က ကူညီဆောင်ရွက်ပေးရမည်ဖြစ်ပြီး "အငှားချထား ခြင်းခံရသူ" မှ သတ်မှတ်ချက်များနှင့်အညီ ဝန်ဆောင်ခငွေများအပါအဝင် ကျသင့်ငွေပေးသွင်းမှု များကို ပြုလုပ်သွားစေရမည်။

(c) New Molecules - Sale Value (in Kyats)

CEPHALOSPORINS

Exihibit - 7 C

| No. | Description | Unit | Yr 1 | Yr 2 | Yr 3 | Yr 4 | Yr 5 | Yr 6 |
|---|---|---|---|---|---|---|---|---|
| 1 | Cefdinir capsule 300 | 10x10's Box | | 600,000 | 720,000 | 864,000 | 1,036,800 | 1,140,480 |
| 2 | Cefaclor susp | Packet | | 48,000,000 | 57,600,000 | 69,120,000 | 82,944,000 | 91,238,400 |
| 3 | Cefdinir sachets | Packet | | 600,000 | 720,000 | 864,000 | 1,036,800 | 1,140,480 |
| 4 | Cefditoren dry syrup | Packet | | 30,000,000 | 36,000,000 | 43,200,000 | 51,840,000 | 57,024,000 |
| 5 | Cefditoren tabs 200 | 10x10's Box | | 600,000 | 720,000 | 864,000 | 1,036,800 | 1,140,480 |
| 6 | Cefepime 1gm | Box | | 60,000,000 | 72,000,000 | 86,400,000 | 103,680,000 | 114,048,000 |
| 7 | Cefepime 2 gm | Box | | 90,000,000 | 108,000,000 | 129,600,000 | 155,520,000 | 171,072,000 |
| 8 | Cefixime 100 mg | 10x10's Box | | 6,000,000 | 7,200,000 | 8,640,000 | 10,368,000 | 11,404,800 |
| 9 | Cefixime 200 mg | 10x10's Box | | 9,000,000 | 10,800,000 | 12,960,000 | 15,552,000 | 17,107,200 |
| 10 | Cefixime 400 mg | 10x10's Box | | 12,000,000 | 14,400,000 | 17,280,000 | 20,736,000 | 22,809,600 |
| 11 | Cefixime susp | Packet | | | 18,000,000.00 | 21,600,000.00 | 25,920,000.00 | 28,512,000.00 |
| 12 | Cefpodoxime 200 mg | 10x10's Box | | | 3,000,000.00 | 3,600,000.00 | 4,320,000.00 | 4,752,000.00 |
| 13 | Cefoperazone + sulbactum 1.5gm | Box | | | 30,000,000.00 | 36,000,000.00 | 43,200,000.00 | 47,520,000.00 |
| 14 | Cefoperazone + sulbactum 2 gm | Box | | | 45,000,000.00 | 54,000,000.00 | 64,800,000.00 | 71,280,000.00 |
| 15 | Cefotaxime 1gm | Box | | | 6,000,000.00 | 7,200,000.00 | 8,640,000.00 | 9,504,000.00 |
| 16 | Cefotaxime 2gm | Box | | | 10,200,000.00 | 12,240,000.00 | 14,688,000.00 | 16,156,800.00 |
| 17 | Cefoxitin inj | Box | | | 12,000,000.00 | 14,400,000.00 | 17,280,000.00 | 19,008,000.00 |
| 18 | Cefpirome 1 mg | Box | | | 12,000,000.00 | 14,400,000.00 | 17,280,000.00 | 19,008,000.00 |
| 19 | Cefpodoxime distab | Box | | | 3,000,000.00 | 3,600,000.00 | 4,320,000.00 | 4,752,000.00 |
| 20 | Cefpodoxime sachets | Box | | | 3,000,000.00 | 3,600,000.00 | 4,320,000.00 | 4,752,000.00 |
| 21 | Cefpodoxime tab 100 mg | 10x10's Box | | | 1,500,000.00 | 1,800,000.00 | 2,160,000.00 | 2,376,000.00 |
| 22 | Cefprozil susp 125 mg /5ml | Packet | | | 12,000,000.00 | 14,400,000.00 | 17,280,000.00 | 19,008,000.00 |
| 23 | Cefprozil tablet 500 mg | 10x10's Box | | | 3,000,000.00 | 3,600,000.00 | 4,320,000.00 | 4,752,000.00 |
| 24 | Cefprozil tablets 250 mg | 10x10's Box | | | 1,500,000.00 | 1,800,000.00 | 2,160,000.00 | 2,376,000.00 |
| 25 | Ceftazidime 1 gm | Box | | | 12,000,000.00 | 14,400,000.00 | 17,280,000.00 | 19,008,000.00 |
| 26 | Ceftazidime 2 gm | Box | | | | 18,000,000.00 | 21,600,000.00 | 25,920,000.00 |
| 27 | Ceftriaxone 1gm | Box | | | | 4,500,000.00 | 5,400,000.00 | 6,480,000.00 |
| 28 | Ceftriaxone 2gm | Box | | | | 9,000,000.00 | 10,800,000.00 | 12,960,000.00 |
| 29 | Ceftubuten 200 | 10x10's Box | | | | 5,400,000.00 | 6,480,000.00 | 7,776,000.00 |
| 30 | Cefuroxime 1.5 gm | Box | | | | 15,000,000.00 | 18,000,000.00 | 21,600,000.00 |
| 31 | Cefuroxime 750 mg | Box | | | | 9,000,000.00 | 10,800,000.00 | 12,960,000.00 |
| 32 | Faropenam tabs 200mg | 10x10's Box | | | | 6,000,000.00 | 7,200,000.00 | 8,640,000.00 |
| 33 | Faropenam tabs 400mg | 10x10's Box | | | | 12,000,000.00 | 14,400,000.00 | 17,280,000.00 |
| | BETALACTAMS | | | | | | | |
| 34 | Amoxy sachet | Packet | | | | 3,000,000.00 | 3,600,000.00 | 4,320,000.00 |
| 35 | Amoxycillin + flucloxacillin | 10x10's Box | | | | 1,500,000.00 | 1,800,000.00 | 2,160,000.00 |
| 36 | Amoxycillin + sulbactum | 10x10's Box | | | | 3,000,000.00 | 3,600,000.00 | 4,320,000.00 |
| 37 | Amoxyclav | Box | | 6,000,000 | 7,200,000 | 8,640,000 | 10,368,000 | 11,404,800 |
| 38 | Amoxyclav 1 gm tablets | 10x10's Box | | 4,500,000 | 5,400,000 | 6,480,000 | 7,776,000 | 8,553,600 |
| 39 | Amoxyclav distab | 10x10's Box | | - | 3,000,000 | 3,600,000 | 4,320,000 | 4,752,000 |
| 40 | Amoxyclav sachet | Box | | - | 3,000,000 | 3,600,000 | 4,320,000 | 4,752,000 |
| 41 | Amoxyclav sachet | Box | | - | 3,000,000 | 3,600,000 | 4,320,000 | 4,752,000 |
| 42 | Amoxyclav susp 30ml | Box | | - | 21,000,000 | 25,204,200 | 30,245,040 | 33,269,544 |
| 43 | Amoxyclav tablet 625 | 10x10's Box | | 6,000,000 | 7,200,000 | 8,640,000 | 10,368,000 | 11,404,800 |
| 44 | Amoxyclv susp | Box | | 30,000,000 | 36,000,000 | 43,200,000 | 51,840,000 | 57,024,000 |

(ဈ) စက်ရုံအတွက် "အငှားချထားခြင်းခံရသူ" မှ ငှားရမ်းမည်ဖြစ်သော နိုင်ငံခြားသားပညာရှင်များ မြန်မာနိုင်ငံတွင် နေထိုင်ခွင့်ရရှိရေးအတွက် " အငှားချထားသူ" မှ ကူညီဆောင်ရွက်ပေးရမည်။

(ည) " အငှားချထားသူ" အနေဖြင့် "အငှားချထားခြင်းခံရသူ" မှ ပေးဆောင်ရန်ရှိသော ဝင်ငွေခွန်နှင့် အခြားအခွန်အကောက်များ ကင်းလွတ်ခွင့် (သို့) သက်သာခွင့်ရရှိရေးကို တည်ဆဲဥပဒေနှင့်အညီ ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(ဋ) "အငှားချထားခြင်းခံရသူ" က အပြစ်ရှိကြောင်း၊ မှားယွင်းကြောင်း မပေါ်ပေါက်ခဲ့ပါဘဲ စာချုပ်ကို (၁၀)နှစ်သက်တမ်းကာလမတိုင်မီ ရပ်စဲမည်ဖြစ်ပါက "အငှားချထားခြင်းခံရသူ" အား " အငှားချထားသူ" သည် ပြီးခဲ့သော (၃)နှစ်တာကာလအတွင်း ရောင်းရငွေတန်ဖိုးစုစုပေါင်းကို တစ်ပေါင်းတစ်စည်းတည်း လျော်ကြေးအဖြစ် ပေးလျော်ရမည်။

(ဌ) နိုင်ငံခြားသားပညာရှင်များထံမှ ရရှိသည့်နည်းပညာများ၊ နည်းပညာနှင့်ပတ်သက်သောအချက်အလက်များ၊ ပြည်ပမှတင်သွင်းလာသော အခြေခံအထောက်အကူပြုပစ္စည်းများနှင့် ပတ်သက်၍ သက်ဆိုင်ရာဌာနများတွင် လိုအပ်သောခွင့်ပြုမိန့် ထောက်ခံချက်စသည့် တစ်စုံတစ်ရာ လိုအပ်ပါက ကူညီပံ့ပိုးဆောင်ရွက်ပေးရမည်။

(ဍ) ဤစာချုပ်အရ ငှားရမ်းမှု (စာချုပ်) ရပ်စဲသွားလျှင် အငှားချထားခြင်းခံရသူမှ ပေးသွင်းထားသည့် အာမခံကြေးကြိုတင်ပေးသွင်းငွေ (Deposit) ကို အငှားချထားသူမှ အငှားချထားခြင်းခံရသူသို့ ပြန်လည်ထုတ်ပေးရမည်။

**စာချုပ်ရပ်စဲခြင်း**

၁၄။ အောက်ပါအကြောင်းတစ်ရပ်ရပ်ပေါ်ပေါက်သည့်အချိန်တွင် ဤစာချုပ်အား ရပ်စဲနိုင်သည်-

(က) စာချုပ်သက်တမ်းကုန်ဆုံးပြီး စာချုပ်သစ်ချုပ်ရန်အတွက် အဆိုပြုတင်ပြချက်မရှိလျှင်။

(ခ) စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကို "အငှားချထားသူ" (သို့မဟုတ်) "အငှားချထားခြင်းခံရသူ" တစ်ဦးဦးကချိုးဖောက်လျှင် (သို့မဟုတ်) ပျက်ကွက်လျှင်။

(ဂ) ကြိုတင်ကာကွယ်၍မရသော မမျှော်မှန်းနိုင်သောဖြစ်ရပ်များ၊ မလွန်ဆန်နိုင်သောဖြစ်ရပ်များသည် တစ်ဆက်တည်း(၆)လထက် ကျော်လွန်၍ဖြစ်ပွားသဖြင့် လုပ်ငန်းဆက်လက်မဆောင်ရွက်နိုင်လျှင်။

(ဃ) "အငှားချထားခြင်းခံရသူ" သည် လူမွဲအဖြစ်ခံယူသွားလျှင်။

(င) စာချုပ်ရပ်စဲရခြင်းအကြောင်းမှာ "အငှားချထားခြင်းခံရသူ" မှ မြန်မာနိုင်ငံတွင် လက်ရှိကျင့်သုံးနေသော တည်ဆဲဥပဒေအရ တားမြစ်ထားသော (သို့) ဥပဒေနှင့်ကိုက်ညီမှုမရှိသော ကိစ္စတစ်စုံတစ်ရာကို ပြုလုပ်ကြောင်းတွေ့ရှိပြီး အဆိုပါကိစ္စအား တရားရုံးမှစုံစမ်းစစ်ဆေးအတည်ပြုပြီး ယင်းကိစ္စရပ်နှင့်ပတ်သက်၍အပြစ်ရှိကြောင်း ပေါ်ပေါက်လာခဲ့ပါက အဆိုပါအကြောင်းအချက်ပေါ်မူတည်၍ "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူဖြေရှင်းရန်နှင့် ၄င်းကိစ္စအပေါ် နစ်ဖက်

ညှိနှိုင်းမရရှိဘဲ စာချုပ်ပါ စည်းကမ်းဖောက်ဖျက်ကြောင်း ထင်ရှားပါက "အငှားချထားသူ"က စာချုပ်ရပ်စဲပိုင်ခွင့်ရှိသည်။

(စ) "အငှားချထားခြင်းခံရသူ" တွင် အပြစ်ရှိကြောင်းများယွင်းခြင်းတစ်စုံတစ်ရာ မပေါ်ပေါက်ခဲ့ပါဘဲ စာချုပ်ချုပ်ဆိုမှုကို ရပ်စဲလိုက်သောအချိန်တွင် "အငှားချထားသူ"မှဖြစ်စေ၊ "အငှားချထားခြင်းခံရသူ" မှဖြစ်စေ ခန့်အပ်ထားသော နိုင်ငံခြားသားနှင့် မြန်မာနိုင်ငံသားဝန်ထမ်းများအတွက် ငှားရမ်းခပေးချေထားသော လက်ရှိစာချုပ်သက်တမ်း တစ်နှစ်အတွက် တာဝန်ရှိမှုမှာ "အငှားချထားသူ"နှင့်သာ သက်ဆိုင်စေရမည်။

(ဆ) "အငှားချထားခြင်းခံရသူ"မှ စာချုပ်အား တစ်ဖက်သတ်ရပ်စဲပါက နိုင်ငံခြားသားနှင့် မြန်မာနိုင်ငံသားဝန်ထမ်းများအတွက် ငှားရမ်းခပေးချေထားသော လက်ရှိသက်တမ်းတစ်နှစ်အတွက် တာဝန်ရှိမှုမှာ "အငှားချထားခြင်းခံရသူ" နှင့်သာ သက်ဆိုင်စေရမည်။

(ဇ) စာချုပ်ဝင်များ၏ သဘောတူညီချက်ဖြင့် ၎င်းတို့၏ လွတ်လပ်သော သဘောဆန္ဒအရ ဤစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ စာချုပ်ကိုရပ်စဲနိုင်သည်။

(ဈ) စာချုပ်ဝင်ပုဂ္ဂိုလ်တစ်ဦးဦးမှ ကြိုတင်အကြောင်းကြားစာပေးပို့၍ စာချုပ်ရပ်စဲရန် သတ်မှတ်တောင်းဆိုချိန်မှစ၍ စာချုပ်ကို ရပ်စဲပြီးဆုံးစေသော်လည်း ဤသဘောတူစာချုပ်ကို အကြောင်းပြု၍ ဆုံးရှုံးနစ်နာစေမှုအပေါ် တားမြစ်ကန့်သတ်ခြင်းမဖြစ်စေရ။

**စက်ရုံ၊ မြေ၊ အဆောက်အဦးနှင့် ပစ္စည်းများကို ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၁၅။ "အငှားချထားခြင်းခံရသူ" သည် ဤသဘောတူစာချုပ်ပါ စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါဖြစ်စေ၊ စာချုပ်ရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရပ်စဲသည့်နေ့မှ (၃၀)ရက်အတွင်း အငှားချထားသည့် စက်ရုံ၊ မြေ၊ အဆောက်အဦးနှင့် စက်ပစ္စည်းကိရိယာများကို "အငှားချထားသူ" သို့ အဖိုးစားနားမပါဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

**စက်ရုံ၊ မြေ၊ အဆောက်အဦးသို့ ပြန်လည်ဝင်ရောက်ပိုင်ခွင့်**

၁၆။ "အငှားချထားခြင်းခံရသူ" သည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် " အငှားချထားသူ" က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် " အငှားချထားခြင်းခံရသူ" သို့ အကြောင်းကြားစာ ပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှုမရှိပါက "အငှားချထားသူ"သည် အငှားချထားသည့် စက်ရုံ၊ မြေ၊ အဆောက်အဦးနှင့် ပစ္စည်းများကို ပြန်လည် ဝင်ရောက် လက်ဝယ်ယူရယူခြင်းသည် "အငှားချထားသူ"က "အငှားချထားခြင်းခံရသူ" ထံမှ ရရန်ရှိသော ငှားရမ်းခ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

**ပျက်ကွက်ခြင်း**

၁၇။ စာချုပ်ပါအတိုင်း လိုက်နာဆောင်ရွက်ပေးနိုင်မှုမရှိခြင်း (သို့) ပြည့်စုံစွာဆောင်ရွက်မပေးနိုင်ခြင်းနှင့် စာချုပ်ဝင်ပုဂ္ဂိုလ်တစ်ဦးဦးတို့၏ ပျက်ကွက်မှုဆိုသောစကားရပ်သည် ဤစာချုပ်ပါဖော်ပြထားသော နှစ်ဖက်သဘော

တူညီချက်များအနက် စာချုပ်ပါသဘောတူညီချက်တစ်ခုခုကို ပြည့်စုံစွာဆောင်ရွက်ပေးနိုင်ခြင်းမရှိသည်ကို ဆိုလိုသည်။ ပျက်ကွက်ခြင်းကို အခြားတစ်ဖက် စာချုပ်ဝင်ပုဂ္ဂိုလ်တစ်ဦးဦးက ကျေနပ်လက်ခံပါက ဤပျက်ကွက်မှုမှ ကင်းလွတ်စေရမည်။

**စာချုပ်အားပြန်လည်စေ့စပ်ညှိနှိုင်းခြင်း**

၁၈။ ဤသဘောတူစာချုပ်တွင်ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းများ အမှန်တကယ်အကောင်အထည်ဖော်ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေတစ်ရပ်ရပ်ကြောင့် လုပ်ငန်းများဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက်စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါစည်းကမ်းချက်များကို ပြန်လည်စေ့စပ်ညှိနှိုင်း ဆောင်ရွက်ရမည်။

**စာချုပ်ပြင်ဆင်ခြင်း**

၁၉။ ဤသဘောတူကတိစာချုပ်အား စာချုပ်ဝင်နှစ်ဦးနှစ်ဖက်ကစာဖြင့် သဘောတူညီထားသည့် ပြင်ဆင်ချက်များအရ ပြင်ဆင်ခြင်း (သို့) ပြောင်းလဲခြင်း (သို့) ဖြည့်စွက်ခြင်းပြုနိုင်သည်။

**စာချုပ်၏နောက်ဆက်တွဲများ**

၂၀။ ဤသဘောတူကတိစာချုပ်၌ပါရှိသော နောက်ဆက်တွဲပုံစံများသည် ဤစာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

**စာချုပ်အကျိုးသက်ရောက်မည့်နေ့ရက်**

၂၁။ ဤငှားရမ်းသဘောတူကတိစာချုပ်အား နှစ်ဦးနှစ်ဘက်အသိသက်သေစုံလင်စွာဖြင့် လက်မှတ်ရေးထိုးသည့် ၂၀၁၅ ခုနှစ်၊ -------- လ (----)ရက် မှစတင်၍ စာချုပ်အကျိုးသက်ရောက်မှုရှိစေရမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၂၂။ စာချုပ်ဝင်များအကြား ဤစာချုပ်နှင့်စပ်လျဉ်း၍ဖြစ်စေ၊ ဤစာချုပ်မှ ဆက်စပ်၍ဖြစ်စေ၊ အငြင်းပွားမှုပေါ်ပေါက်ပါက ရှေးဦးစွာ စာချုပ်ဝင်များအကြား နှစ်ဖက်သဘောတူညှိနှိုင်း ဆွေးနွေးမှုဖြင့် အငြင်းပွားမှု ပြေငြိမ်းစေရန် ဆောင်ရွက်ရမည်။

၂၃။ ထိုသို့နှစ်ဖက်ညှိနှိုင်းဆွေးနွေးမှု မအောင်မြင်၊ ပြေငြိမ်းမှုမရှိပါက အနုညာတခုံသမာဓိနည်းလမ်းဖြင့် ဖြေရှင်းဆုံးဖြတ်ခံယူနိုင်ရန် စာချုပ်ဝင်တစ်ဖက်စီက ခုံသမာဓိလူကြီး တစ်ဦးစီရွေးချယ်ခန့်အပ်ပြီး၊ ဖြေရှင်းဆုံးဖြတ်စေရမည်။ သို့တိုင် သဘောတူပြေငြိမ်းမှုမရပါလျှင် အဆိုပါ ခုံသမာဓိလူကြီး နှစ်ဦးသဘောတူရွေးချယ်ခန့်အပ်သော အဓိက ခုံသမာဓိလူကြီး (Umpire) ခန့်အပ်၍ အဆုံးအဖြတ်ခံယူရမည်။ အဆိုပါ ခုံသမာဓိလူကြီးနှစ်ဦး (သို့မဟုတ်) အဓိက ခုံသမာဓိလူကြီး၏ ဖြေရှင်းဆုံးဖြတ်ချက်သည် စာချုပ်ဝင်နှစ်ဖက်လုံးအပေါ် စည်းနှောင်မှုရှိစေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ် မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေအမှတ်၊ ၄/၁၉၄၄)နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ ခုံသမာဓိအဖွဲ့ ရုံးထိုင်အဆုံးအဖြတ်ပြုရာနေရာမှာ ရန်ကုန်မြို့တော်နယ်နိမိတ်အတွင်းဖြစ်ရမည်။ အငြင်းပွားမှုဖြေရှင်းဆောင်ရွက်မှု ကုန်ကျစရိတ် (တရားစရိတ်)ကို ရှုံးနိမ့်သူဘက်မှ ကျခံရမည်။

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၂၄။ မလွန်ဆန်နိုင်သည့်ဖြစ်ရပ်ဆိုသည်မှာ ကြိုတင်ကာကွယ်တားဆီး၍မရနိုင်သော ကြိုတင်မမျှော်မှန်းနိုင်သောဖြစ်ရပ်များဖြစ်သည့် သဘာဝဘေးအန္တရာယ်များ၊ "အငှားချထားခြင်းခံရသူ" ၏ ပေါ့ဆမှုကြောင့်မဟုတ်သောမီးလောင်ခြင်း၊ ရေကြီးခြင်း၊ လေမုန်တိုင်းကျခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ သောင်းကျန်းသူအဖျက်သမားတို့၏ အဖျက်လုပ်ရပ်များ၊ သူပုန်ထခြင်း၊ သပိတ်မှောက်ခြင်း၊ အဓိကရုန်းဖြစ်ခြင်းများစသည့် အနှောက်အယှက်အဖျက်အဆီးကိစ္စရပ်များကြောင့် တစ်ဖက်ဖက်က စာချုပ်ပါတာဝန်များကိုထမ်းဆောင်ရန် ပျက်ကွက်ပါက ၎င်းအပေါ်မည့်သည့်တာဝန်မှမရှိစေရ။ သို့သော် ၎င်းကိစ္စရပ်တစ်ခုခုပေါ်ပေါက်ပါက (၁၄)ရက်အတွင်း အငှားချထားခြင်းခံရသူက "အငှားချထားသူ"ထံသို့ အကြောင်းကြားရမည်။ "အငှားချထားသူ"က ၎င်းသတင်းလက်ခံရရှိမှသာ မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ဖြစ်မြောက်ပြီး စာချုပ်ပါ စက်ရုံ၊ အဆောက်အဦ၊ စက်ပစ္စည်းများငှားရမ်းမှုနှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် သက်သာခွင့်ကို ခွင့်ပြုနိုင်သည်။

**အာမခံထားရှိခြင်း**

၂၅။ စက်ရုံ၊ အဆောက်အဦ၊ စက်ပစ္စည်းများနှင့်ပတ်သက်၍ မီးအာမခံ၊ စက်ယန္တရားအာမခံ၊ ထိခိုက်မှုအာမခံတို့ကို မြန်မာ့အာမခံဥပဒေအရလိုအပ်သည့် အားလုံးသောအာမခံလုပ်ငန်းများကို "အငှားချထားခြင်းခံရသူ"၏ ငွေကြေးဖြင့် ကျခံထားရှိရမည်။

**မီးဘေးကာကွယ်ခြင်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၂၆။ "အငှားချထားခြင်းခံရသူ"သည် မီးဘေးကာကွယ်ရေးနှင့်ပတ်ဝန်းကျင်ကာကွယ်ရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေအပါအဝင် တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ အမိန့်၊ ညွှန်ကြားချက်များနှင့်အညီ အောက်ပါတို့ကို ဆောင်ရွက်ရမည် -

(က) "အငှားချထားခြင်းခံရသူ"၏ပေါ့ဆမှုကြောင့် မီးဘေးအန္တရာယ်မဖြစ်ပေါ်စေရေးအတွက် အလုပ်ရုံအတွင်း/အပြင်နှင့် စက်လိုင်းများတွင် လျှပ်စစ်ဝါယာကြိုးများ စနစ်တကျသွယ်တန်း အသုံးပြုခြင်း၊ လျှပ်စစ်ဝါယာကြိုးများအား အမြဲမပြတ်စစ်ဆေးခြင်း၊ အလုပ်ရုံဝင်းအတွင်းနှင့် အလုပ်ရုံ၏အပြင်ဘက်တို့တွင်သန့်ရှင်းရေးအမြဲဆောင်ရွက်ခြင်းနှင့် မီးဘေးကာကွယ်ရေးပစ္စည်းများ အဆင်သင့်စီမံထားရှိခြင်းများဆောင်ရွက်ရန်။

(ခ) လေဝင်လေထွက်၊ ရေဝင်ရေထွက်ကောင်းကာ ရေဆိုးစွန့်ပစ်သည့်စနစ် မှန်ကန်မှုရှိစေရန်။

(ဂ) မိမိတို့အလုပ်ရုံကြောင့် လေထုရေထုညစ်ညမ်းမှုမဖြစ်စေရေး၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်စေရေးအတွက် ဂရုပြုဆောင်ရွက်ရန်။

**သယံဇာတပစ္စည်းတွေ့ရှိခြင်း**

၂၇။ ဤစာချုပ်၏ သက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့် မြေ၏ မြေပေါ်မြေအောက်မှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓါတုဆိုင်ရာပစ္စည်းများ၊ သဘာဝသယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများ အစရှိသည်တို့တွေ့ရှိလျှင် "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ" သို့ ချက်ချင်းအကြောင်းကြားရမည်။ အဆိုပါပစ္စည်းများကို "အငှားချထားသူ" က ပိုင်ဆိုင်ရမည့်အပြင် "အငှားချထားသူ"

သည် ထိုပစ္စည်းများကို နိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့ လွှဲပြောင်းတင်ပြရမည်။ "အငှားချထားသူ"နှင့် သက်ဆိုင်ရာအဖွဲ့အစည်းများသည် အဆိုပါသယံဇာတပစ္စည်းများကို မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ပိုင်ခွင့်ရှိစေရမည်။

**အခွန်အကောက်များ**

၂၈။ အခွန်အကောက်ဆိုသော စကားရပ်တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရမှ အခါအားလျော်စွာ သတ်မှတ်ပြဋ္ဌာန်းထားသော အခွန်အကောက်များ၊ နိုင်ငံတော်၏ ပြင်ပတွင်ပေးရန်ရှိသော အခွန်အကောက်များကို ဆိုလိုသည်။ "အငှားချထားခြင်းခံရသူ"ဘက်မှ ရရှိသည့်အကျိုးအမြတ်အတွက် စည်းကြပ်ခြင်းခံရမည့် အခွန်ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေနှင့်အညီ ပေးဆောင်ရမည့်အပြင် ၂၀၁၅ ခုနှစ် ပြည်ထောင်စုအခွန်အကောက် ဥပဒေနှင့်အညီ ကုန်သွယ်လုပ်ငန်းခွန် (၅)ရာခိုင်နှုန်းကိုပါ "အငှားချထားခြင်းခံရသူ" က ပေးဆောင်ရန် တာဝန်ရှိသည်။

**လျှို့ဝှက်ထိန်းသိမ်းခြင်း**

၂၉။ "အငှားချထားခြင်းခံရသူ" နှင့် "အငှားချထားသူ" မှ ဤစာချုပ်ပါ အချက်အလက်များ၊ စာချုပ်ပါတာဝန်များနှင့် အခြားပတ်သက်ရာပတ်သက်ကြောင်း သတင်းအချက်အလက်များကို သတ်မှတ်ထားသည့် ဥပဒေအရ ခွင့်ပြုထားသည့်ကိစ္စမှအပ လျှို့ဝှက်အဆင့်တွင်ထားရမည်။

**လွှမ်းမိုးသည့် ဥပဒေ**

၃၀။ မြန်မာနိုင်ငံဥပဒေများဖြင့် လွှမ်းခြုံပြုစုထားသည့် ဤငှားရမ်းခြင်းသဘောတူစာချုပ်ကို မြန်မာဘာသာနှင့် အင်္ဂလိပ်ဘာသာတို့ဖြင့် ရေးသားချုပ်ဆိုထားပြီး ဤစာချုပ်ပါ စည်းကမ်းချက်များနှင့်ပတ်သက်၍ မြန်မာဘာသာဖြင့် ချုပ်ဆိုထားသော စာချုပ်အပေါ်တွင်သာ မြန်မာနိုင်ငံရှိ တည်ဆဲဥပဒေများက လွှမ်းခြုံမှုရှိစေရမည်။

**ဆက်သွယ်ရန်လိပ်စာ**

၃၁။ "အငှားချထားသူ"အား ဆက်သွယ်ရန်လိပ်စာ

မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၊ အမှတ်(၁၈၉/၁၉၁)၊ မဟာဗန္ဓုလလမ်း၊ ဗိုလ်တစ်ထောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး၊ ၀၁-၃၉၇၄၇၂

ထုတ်လုပ်မှုလုပ်ငန်းများဌာနကြီး၊ ၀၁-၃၉၇၁၈၄

၃၂။ "အငှားချထားခြင်းခံရသူ"အား ဆက်သွယ်ရန်လိပ်စာ

RVK Meditech Company Limited အမှတ်(၂၂)၊ သစ်ရာပင်လမ်း၊ (၂၃)ရပ်ကွက်၊ သုဝဏ္ဏ၊ သင်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ ၀၁-၅၆၆၃၆၀

D/All Pag/Contract/MPL&RVK Final Contract/19

**လက်မှတ်ရေးထိုးခြင်း**

၃၃။ အထက်ဖော်ပြပါစည်းမျဉ်းစည်းကမ်းများကို နှစ်ဦးနှစ်ဖက်သဘောတူလက်ခံပါသဖြင့် ဤစာချုပ်ကို ၂၀၁၅ ခုနှစ်၊ ------ လ (------) ရက်နေ့၌ အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် အငှားချထားသူနှင့် အငှားချ ထားခြင်းခံရသူတို့က အသီးသီးလက်မှတ်ရေးထိုးကြပါသည်။

**အငှားချထားသူ(ကိုယ်စား)**

ဗိုလ်ချုပ်ဇာနည်ဝင်း
မန်နေဂျင်းဒါရိုက်တာ
မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

**အငှားချထားခြင်းခံရသူ(ကိုယ်စား)**

ဒေါက်တာကောင်းကျော်ဆွေ
ဥက္ကဋ္ဌ
နိုင်ငံသားစိစစ်ရေးအမှတ်- ၁၂/မရက(နိုင်)၁၃၂၄၁၀
RVK Meditech Co., Ltd.

**အသိသက်သေများ**

ဦးဝင်းကြည်
ဌာနကြီးမှူး(ထုတ်လုပ်မှုလုပ်ငန်းများဌာနကြီး)
မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

ဒေါက်တာမင်းဇော်
မန်နေဂျင်းဒါရိုက်တာ
နိုင်ငံသားစိစစ်ရေးအမှတ်- ၁၂/ဥကတ(နိုင်)၁၀၇၀၄၄
RVK Meditech Co., Ltd.

ဦးသန်းထူး
စက်ရုံမှူးကြီး
မြန်မာနိုင်ငံဆေးဝါးလုပ်ငန်းစက်ရုံ(ပြင်ဦးလွင်)

Mr. Vivek Sharma
Passport No. Z 3087281
RVK Meditech Co., Ltd.

/

# RVK MEDITECH COMPANY LIMITED

No. 2/002, Lay Daung Kan Road, Tha Du Housing, Thingangyun Township, Yangon

Ph: +95 9 31405678

To

Director General,

Directorate of Investment and Company Administration,

Ministry of National Planning and Economic Development,

Yangon, The Republic of Union of Myanmar.

Date – 17 . 5 .2016

Subject : Filling for Company's Tranafer of Shares &Form VI

_Dear Sir,

We are pleased to submit the following documents for and on behalf of the Company's Board of Directors for your further process.

| | |
|---|---|
| (1) Minutes of Board of Directors Meeting | 1set |
| (2)share transfer | 1 set |
| (3)Return of shares allotment form VI | 1set |
| (2)Cash chalan amouting ks- ( 5000 ) | 1 set |

Thank you so much for your kind co-operation with us.

Best Regards,

Yours truly,

U Minn Zaw

U Minn Zaw
Managing Director
RVK Meditech Co.,Ltd.

# RVK MEDITECH COMPANY LIMITED

No. 2/002, Lay Daung Kan Road, Tha Du Housing, Thingangyun Township, Yangon

Ph: +95 9 31405678

---

## MEETING OF THE BOARD OF DIRECTORS

Special resolution of the board of directors held on ( 9 . 5 . 2016 ) at RVK Meditech Company Limited's Office, No. 2/002 . Lay Daung Kan Road , Tha Du Housing , Thingangyan Township , Yangon.

Represented By Its Directors;

| | Name | Position | Singature |
|---|---|---|---|
| 1. | U Minn Zaw | Managing Director | |
| 2. | Mr. Rajiv Kumar Sharma | Director | |
| 3. | U Kaung Kyaw Swe | Director | |

The quorum being Present , the meeting of the board of directors proceeds as per the following agenda.

**Chaired By :** U Minn Zaw

**Discussion :** The meeting was attended by all shareholders and directors and discussed as follows;

-To transfer the number of shares allotted to the shareholder.

**Resolution (1) RESOLVED THAT:**

To transfer the number of shares represented by as follows;

The regarding with transferred share of RV Healthcare Pte Ltd, all shareholders decided that 3500 shares had been transferred from RV Healthcare Pte Ltd to Meditech Biz Co.,Ltd.

# RVK MEDITECH COMPANY LIMITED

No. 2/002, Lay Daung Kan Road, Tha Du Housing, Thingangyun Township, Yangon

Ph: +95 9 31405678

---

**Resolution (2) RESOLVED THAT:**

Agree the changing of shares amount of all shareholders as follow;

(1) **RV Healthcare Pte Ltd** had taken the **thirty one thousands and five hundred** shares and then company's percentage is the **sixty-three** percentage of the whole amount of capital investment.

(1) **Meditech Biz Ltd** had taken the **thirteen thousands and five hundred** shares and then company's percentage is the **twenty-seven** percentage of the whole amount of capital investment.

(2) **K Future Co; Ltd** had taken the **five thousands** shares and then company's percentage is the **ten** percentage of the whole amount of capital investment.

| Name | Previous Share | share transfer | Total Share |
|---|---|---|---|
| RV Heathcare Pte.,Ltd | 35,000 | 3500 | 31,500 |
| Meditech Biz Co.,Ltd. | 10,000 | - | 13,500 |
| K Future Co.,Ltd | 5,000 | - | 5,000 |
| Total | | 3500 | 50,000 |

**Resolutoin (3) To submit this matter to DICA Officially.**

The Meeting is Successfully Concluded at 11:00 am.

Approved by;

Recorded By;

U Minn Zaw
Managing Director
RVK Meditech Co.,Ltd.






I Mr.Rajiv Kumar Sharma (P.P No Z 2738769)

of 1 North Bridge Rd, #07-10,High Street Centre, Singapore(179094)

in consideration of the sum of USD 3500/-

paid to me by U Minn Zaw (12/Ou Ka Ta (N)107044 of NO.2/002, Lay Daung Kan Rd,Thadu Housing,Thinggangyun T./S,Yangon. do

hereby transfer to the said transferee the 3500 shares

number ______ to ______

standing in my name in the Books of the abovenamed Company to hold unto the said transferee, his Executors, Administrations, and Assigns, subject to the several conditions on which I held the same at the time execution there of and I the said transferee do hereby agree to take the said shares subject to the same conditions.

As witness our hands the ______ day ______ 20

Witness Pan Ei May Zaw
12/YaKaNa(N) 078113

Designation Accountant

Address No(509),5B Kan Lay Daung Kan Qtr,Thing Township, Yangon.






Transferor
Mr,Rajiv Kumar Sharma
Indian Z 2738769

Designation Director

Address 1 North Bridge Rd, #07-10 High Street Centre Singapore(179094)

Witness U Tin Nwel
12/La Ma Ta(N)020902

Designation

Address No.350/354 , Room N Kyone Gyi Street, Lanmadaw T Yangon.






Transferee
U Minn Zaw
12/ Ou Ka Ta(N)107044

Designation
MD
FOR MEDITECH BIZ CO.,LTD
REG NO.4559/2013/2014

Address
No.2/002,Lay Daung Kan Rd, Thadu Housing,Thinggangyun T/S YANGON.

စာရင်းသွင်းပြီး



ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ရန်ကုန်မြို့ 017

ငွေလက်ခံ/ရရှိပြေစာ

ရက်စွဲ၊

၁။ ကုမ္ပဏီ အမည် ( အမည် )၊

(အင်္ဂလိပ်)၊ RVK MEDITECH COMPANY LIMITED

၂။ ငွေပေးသွင်းသည့် အကြောင်းအရာ၊

၃။ ပေးသွင်းသည့်ငွေ ( ဂဏန်းဖြင့် )၊ 5000

( စာဖြင့် )၊ ငွေလက်ခံပြီး

ငွေပေးသွင်းသူလက်မှတ်

ငွေလက်ခံသူလက်မှတ်

အမည်၊

အမည်၊

21




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ၁၇၇ အက်ဖ်စီ / ၂၀၁၅-၂၀၁၆ (ရက)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ အာဗီကေ မယ်ဒီတက်(ခ်) ကုမ္ပဏီ လီမိတက် ..................................... အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၁၅ နှစ်၊ မေ လ ၂၇ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(နီလာမူ၊ ညွှန်ကြားရေးမှူး)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

---

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. 177 FC of 2015-2016 (YGN)

I hereby certify that RVK MEDITECH COMPANY LIMITED. ......................................................... is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Yangon this TWENTY SEVENTH day of MAY, TWO THOUSAND AND FIFTEEN

For Director General
(Nilar Mu- Director)

Directorate of Investment and Company Administration

ဤကုမ္ပဏီမှတ်ပုံတင် လက်မှတ်သည် (၂၇-၅-၂၀၁၅) မှ (၂၆-၅-၂၀၂၀) ရက်နေ့ အထိ (၅)နှစ် သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(သက်ပိုင်ဒုတိယညွှန်ကြားရေးမှူး)

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT




# FORM 1

# FORM OF PERMIT (TEMPORARY)

## (See section 27 A)

Permit No. 177 FC / 2015-2016 (YGN)

Date 27th May, 2015

The Ministry of National Planning and Economic Development of the Government of the Republic of the Union of Myanmar in pursuance of the Myanmar Companies Act hereby grants a permit to the RVK MEDITECH COMPANY LIMITED. .......... in respect of which particulars are detailed below, to carry on its business within the Republic of the Union of Myanmar subject to the provisions contained in the said Act.

| | | |
|---|---|---|
| (1) | Name of the Company | RVK Meditech Co., Ltd. |
| (2) | Country of incorporation of the company. | The Republic of the Union of Myanmar. |
| (3) | Location of the company's Head Office and / or Principal Office in the Republic of the Union of Myanmar. | No. 2/002, Lay Daung Kan Road, Tha Du Housing, Thingangyun Township, Yangon. |
| (4) | The object for which the company is formed (field of business). | Consulting for medical equipments, market survey for medical equipments. |
| (5) | (a) The amount of Capital and the number of shares into which the Capital is divided. | USD 2,000,000 divided into 2,000,000 shares of USD 1 each. |
| | (b) If more than one class of shares is authorised, the description of each class. | Only one class. |
| (6) | The names, addresses and nationality of the directors. | As per List attached. |
| (7) | The maximum amount of indebtedness which may be incurred by the company and also a prohibition against the contracting of debts in excess of that amount. | As per conditions attached. |
| (8) | Period of validity of permit. | May 27, 2015 to November 26, 2015. (SIX MONTHS) |
| (9) | Statement of compliance with legal requirements for issue of Capital including the amount to be paid in before business is commenced. | As per conditions attached. |
| (10) | Statement of compliance with such conditions as may be prescribed. | The conditions attached to the permit and conditions as may be prescribed from time to time are also to be strictly adhered to by the company. |

By order

**For Director General**
**(Nilar Mu - Director)**

Directorate of Investment and Company Administration

The business objectives mentioned in the Memorandum of Association shall be allowed to perform.If it is necessary, permit or license from relevant Union Ministries, Departments and Organizations of the Republic of the Union of Myanmar must be obtained in accordance with existing laws, rules and regulations.

Issued Date:



Yangon Office – No . 22, Thit Yar Pin Street, Block 23, Thuwunna, Thingangyun Township, Yangon, Myanmar.
Pyin Oo Lwin Office – Myanmar Pharmaceutical Factory (Pyin Oo Lwin), Anesakhan, Mandalay – Lashio Road,
Pyin Oo Lwin, Mandalay Division, Myanmar.

To

Director General,

Directorate of Investment and Company Administration,

Ministry of National Planning and Economic Development,

Yangon, The Republic of Union of Myanmar.

Date – 5 · 5 .2016

Subject : Changing the business activities

Dear Sir,

We are pleased to submit the following documents for and on behalf of the Company's Board of Directors for your further process.

(1) Minutes of Board of Directors Meeting 1set

(2)Cash chalan amouting ks-( ) 1 set

Thank you so much for your kind co-operation with us.

Best Regards,

Yours truly,



U Minn Zaw

U Minn Zaw
Managing Director
RVK Meditech Co.,Ltd.

Phone No : +(95) 1 566360 , +(95) 85 2050282-83-84-85 . Fax No : +(95) 1 566360 ,+(95) 85 2050283
Hot Line No : +(95) 9 793003005

RVK MEDITECH

Yangon Office - No . 22, Thit Yar Pin Street, Block 23, Thuwunna, Thingangyun Township, Yangon, Myanmar.
Pyin Oo Lwin Office - Myanmar Pharmaceutical Factory (Pyin Oo Lwin), Anesakhan, Mandalay - Lashio Road, Pyin Oo Lwin, Mandalay Division, Myanmar.

# SPECIAL MEETING OF THE BOARD OF DIRECTORS

Date : 5 - 5 -2016
Time : 9:00 Am
Place : Company's Office
Presented By Its Directors as follow:

| Name | Position | Signature |
|---|---|---|
| 1. U Minn Zaw | Managing Director | |
| 2. Mr-Rajiv Kumar | Director | |
| 3. U Kyaw Kyaw Swe | Director | |

The quorum being present, the meeting of the board of directors proceeds as per the following agenda.

Chaired By : U Minn Zaw
Discussion : The meeting for Adding a new business activity to the two existing business activities of company

**Resolution (1)**

Regarding with current business activities, all shareholders agreed to add "a new business activity " to the two existing business activities which are;
(1) Consulting for medical equipments and
(2) The market survey for medical equipments.
Therefore all shareholders resolved that the new added business activity is **"The Production and Marketing of Pharmaceutical Production Business".**

**Resolution(2)**

To submit this matter to DICA officially.
The Meeting is Successfully concluded at 11:00 am.

Recorded By

U Minn Zaw
Managing Director
RVK Meditech Co.,Ltd.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# အာ ဗီ ကေ မယ် ဒီ တက် (ခ်) ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memoradum Of Association

*AND*

# Articles Of Association

*OF*

# RVK Meditech COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အာ ဗီ ကေ မယ် ဒီ တက်(ခ်) ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း



၁။ ကုမ္ပဏီ၏အမည်သည် အာ ဗီ ကေ မယ် ဒီ တက်(ခ်) ကုမ္ပဏီ လီမိတက် ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်းဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၂၀၀၀,၀၀၀ USD /-( ကျပ် ဒေါ်လာ နှစ်သန်း တိတိ ) ဖြစ်၍ငွေကျပ် ၁ USD /-( ကျပ် တစ်ဒေါ်လာ တိတိ ) တန် အစုရှယ်ယာပေါင်း ( ၂၀၀၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသောတရားဥပဒေ အထွေထွေပဋိဉာဉ်များနှင့်အညီ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၆။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ

(၁) ဆေးဝါးပစ္စည်းများ အတွက် အကြံပေးခြင်း

(၂) ဆေးဝါးပစ္စည်း ဈေးကွက် စစ်တမ်းကောက်ခြင်း

၇။ ကုမ္ပဏီမှ သင့်တော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည့်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်း များကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန် ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ [illegible]

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည့် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့် အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည် ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည်၊ နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1. | U Minn Zaw<br>12/OuKaTa(N) 107044<br>for and on behalf of<br>Meditech Biz Co.,Ltd<br>No.2/002,Lay Daung Kan Road,Tha Du Housing,<br>Thingangyan Township,yangon | incorporated in Myanmar<br>Reg:No: 4549/2013-2014 | 400,000 shares | (signature) |
| 2. | Mr Rajiv Kumar Sharma<br>PPNO:Z2738769<br>for and on behalf of<br>RV HEALTHCARE PTE.LTD<br>1 North Bridge Road,#07-10 High Street Centre<br>( Singapore ) | incorporated in singapore<br>Reg:NO: 201023677C | 1400,000 shares | (signature) |
| 3. | U Kaung Kyaw Swe<br>12/MaYaKa(N)132420<br>for and on behalf of<br>K Future Co.,Ltd<br>No.5/3,Room)(1),between<br>Yan Aung 6-7 Street,<br>2 Ward,Yankin Township | incofporates in Myanmar<br>Reg:No: 385/2010-2011 | 200,000 shares | (signature) |

ရန်ကုန်။ နေ့စွဲ၊ ၂၀ ခုနှစ်၊ လ၊ ရက်။

U THEIN HTUN
B.A (Law), LL.B
Advocate
No. (88), 38th Street
(lower Block),
Kyauktada Township, Yangon.

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အာ ဗီ ကေ မယ် ဒီ တက်(ခ်) ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမ ဇယားပုံစံ 'က' ပါစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့်အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့်မသက်ဆိုင်သောကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ်အထိသာကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏အစုရှယ်ယာ သို့မဟုတ် ဒိဘင်ချာ သို့မဟုတ် ဒိဘင်ချာစတော့(ခ်) တစ်ခုခုအတွက်ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၂၀၀၀,၀၀၀ USD /-( ကျပ် ဒေါ်လာ ၂ သန်း တိတိ )ဖြစ်၍ ငွေကျပ် ၁ USD /-( ကျပ် တစ်ဒေါ်လာ တိတိ )တန် အစုရှယ်ယာပေါင်း (၂၀၀၀,၀၀၀ ) ခွဲထားပါသည်၊ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိအရေးဝင်တည်ဆဲဖြစ်နေသောတရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာရှိစေရမည်၊

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်၊ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကိုဆောင်ရွက်နိုင်သည်။

အစုရှယ်ယာ လက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့ကသတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏ တံဆိပ် ရိုက်နှိပ် ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်းထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာ များကအသိအမှတ်ပြုပေးရမည်ဖြစ်သည်။

ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာတောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း ( ၁၀ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည် –

(၁) U Minn Zaw

(၂) Mr RAJIV KUMAR SHARMA

(၃) U Kaung Kyaw Swe

(၄)

(၅)

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေးဂျင်းဒါရိုက်တာ အဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ညဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး (–)စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့ သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည်အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

အစုရှယ်ယာ လက်မှတ်များကို အတွေတွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့ကသတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏ တံဆိပ် ရိုက်နှိပ် ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်းထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာ များကအသိအမှတ်ပြုပေးရမည်ဖြစ်သည်။

ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာတောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း ( ၁၀ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည် -

(၁) U Minn Zaw

(၂) Mr RAJIV KUMAR SHARMA

(၃) U Kaung Kyaw Swe

(၄)

(၅)

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေးဂျင်းဒါရိုက်တာ အဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ညွှန်ကြားချက်များဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး (-)စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့ သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည်အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

